ကန့်သတ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ရက-၆(က)/မ-စက်သုံးဆီ/၂၀၁၃(၈၂၃)
ရက်စွဲ ၊ ၂၀၁၃ ခုနှစ် ဇန်နဝါရီလ ၁၅ ရက်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်

## အမှာစာ

အကြောင်းအရာ။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ B.O.T စနစ်ဖြင့် မြေငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား နှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီများအား သိုလှောင်သည့် ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်မည့် ကုမ္ပဏီ(၃)ခု (Elite Petrochemical Co., Ltd. ၊ Max(Myanmar) Services Co., Ltd နှင့် Myat Myinttar Mon Services Co., Ltd) တို့၏ အဆိုပြုချက်များ တင်ပြခြင်းကိစ္စ

၁။ အောက်ပါ ကုမ္ပဏီ (၃)ခုတို့သည် ဥပဒေအရ B.O.T စနစ်ဖြင့် ငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား နှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီများအား သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းကို မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ပို့ဆောင်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်များ တင်ပြခဲ့ပါသည်-

| စဉ် | ကုမ္ပဏီအမည် | ဆောင်ရွက်မည့်လုပ်ငန်း |
|---|---|---|
| ၁။ | Elite Petrochemical Co., Ltd. | B.O.T စနစ်ဖြင့် ငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား နှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီများအား သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း |
| ၂။ | Max(Myanmar) Services Co., Ltd | B.O.T စနစ်ဖြင့် ငှားရမ်း၍ ဆီသိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီများအား သိုလှောင်သည့် ဝန်ဆောင်မှု လုပ်ငန်း |
| ၃။ | Myat Myinttar Mon Services Co., Ltd | B.O.T စနစ်ဖြင့် ငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား နှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီများအား သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း |

၂။ ယခုတင်ပြသည့် အဆိုပြုလုပ်ငန်းများ နှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ယခုတင်ပြသည့် အဆိုပြု လုပ်ငန်းများသည် ပြည်ပမှ ကုန်ချော (စက်သုံးဆီ)များအား တင်သွင်းပြီး ပြည်တွင်းတွင် ဖြန့်ဖြူးသည့် ဝန်ဆောင်မှုလုပ်ငန်း ဖြစ်ပါသည်။

(ခ) ယခုအဆိုပြုချက်မျိုး ကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးခဲ့ခြင်းမရှိပါ။

(ဂ) စက်သုံးဆီသိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ အရ ဝင်ငွေခွန်ကင်းလွတ်ခွင့် နှင့် ဥပဒေ ပုဒ်မ-၁၃(ဇ) အရ တည်ဆောက်ရေး ကာလအတွင်း ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများ အတွက် အခွန်အကောက် ကင်းလွတ်ခွင့် ပြုနိုင်ပါသည်။

(ဃ) ဥပဒေ ပုဒ်မ ၁၃(ဈ)တွင် သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းနှင့် လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်ဟု ပြဋ္ဌာန်းထားပါသည်။

(င) သို့ရာတွင် စက်သုံးဆီဝန်ဆောင်မှုလုပ်ငန်းမှာ ပြည်ပမှ ကုန်ချော (စက်သုံးဆီ)များအား တင်သွင်းပြီး ပြည်တွင်း၌ သိုလှောင်ကာ ဖြန့်ဖြူးရောင်းချခြင်းဖြစ်သဖြင့် ဥပဒေပုဒ်မ ၁၃(ဈ) နှင့် အကျုံးမဝင်ပါ။

၃။ သို့ဖြစ်ပါ၍ အဆိုပြု ကုမ္ပဏီ(၃)ခုတို့၏ B.O.T စနစ်ဖြင့် မြေငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား နှင့် ဆီသိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီများအား သိုလှောင် သည့် ဝန်ဆောင်မှု လုပ်ငန်း အဆိုပြုချက်များ တင်ပြခြင်းအပေါ် စီးပွားရေးဆိုင်ရာ အသေးစိတ် အချက်အလက်များကို ပူးတွဲ တင်ပြလျှက် လမ်းညွှန်မှု ခံယူအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(မြသူဇာ၊ အဖွဲ့ဝင်)

မိတ္တူ-ရုံးလက်ခံ